| Region | Discription | Model/type | Q;ty |
|---|---|---|---|
| 1 | PH Control unit | PH Electrode | 1 |
| | | PH Control panel | 1 |
| | | Valve | 1 |
| | | Valve control | 1 |
| 2 | Juice level ball | | 1 |
| 3 | Evaporator control system(DCS) | | 1 |
| 3.1 | Mied,Clear,Neutrali-ze juice level | Flange type juice level | 3 |
| | | Control box | 1 |
| | | Meter | 1 |
| 3.2 | Sulphur&Lime control | Nozzle | 2 |
| | | Nozzle Ajustment | 2 |
| | | Auto valve | 2 |
| | | Valve | 2 |
| 3.3 | No.1,2 juice heater | Resister | 2 |
| | Temperature control | Control switch | 2 |
| | | Control switch | 2 |
| | | Auto valve | 2 |
| 3.4 | Desuper heater | Resister | 2 |
| | | Control switch | 2 |
| | | Control switch | 2 |
| | | Auto valve | 2 |
| | | Current transformer | 2 |
| | | Control box | 2 |
| | | Control switch | 2 |
| | | Control switch | 2 |
| | | Autovalve | 2 |
| 3.5 | Evaporator inlet temperature | Transmiter | 1 |
| | | Control box | 1 |
| | | Control switch | 1 |
| | | Control switch | 1 |
| | | Auto valve | 1 |

| Region | Discription | Model/type | Q;ty |
|---|---|---|---|
| 3.6 | 1-6 Evaporator temperature | Resister | 6 |
| 3.7 | 1-6 Evaporatorpressure | Transmitter | 6 |
| | | Resister | 6 |
| 3.8 | 1-6 Evapotator Level | Flange type level | 6 |
| 3.9 | Last evaporator BX | Flange type level | 1 |
| | | Control box | 6 |
| 3.1 | Syrup flow | Magneic type flow meter | 1 |
| 3.11 | Evaporator water adjust systeme | Transmitter | 1 |
| | | Meter | 1 |
| | | Control box | 1 |
| | | Controlswitch | 1 |
| | | Control switch | 1 |
| 4 | Conpress air system | | 1 |
| 5 | Pan temperature | Resister | 6 |
| | | Rotate display | 1 |
| 6 | Pan water sdjust systeme | Control box | 6 |
| | | Transmitter | 6 |
| | | Control box | 6 |
| | | Control switch | 6 |
| | | Control switch | 6 |
| | | Auto valve | |
| 7 | Molasses weight scal | | 1 |
| 8 | Sugar weight scal | | 3 |
| Total Price USD | | 150000 | |

10-4 MillerhouseInstrument

| Region | Discription | Model/type | Q;ty |
|---|---|---|---|
| 1 | Nuclear weight scale | | 1 |
| 2 | Imbibition water temperatur | a.Resister | 1 |
| | | b.Meter | 1 |
| 3 | Imbibition water flowmeter | a. Control unit | 1 |
| | | b. Meter | 1 |
| 4 | Mixed juice flow | a. Control unit | 1 |
| | | b. Meter | 1 |
| 5 | Lime control | a. PH Meter | 1 |
| | | b. PH Electrode | 1 |
| | | c. Valve | 1 |
| 6 | Bagass chute | a. Open/Close sensor | 30 |
| 7 | Mill bearing temperature | b. Resister | 30 |
| | Total Price USD | 225000 | |

10-5 Waste water treatment Plant Instrument

| Region | Discription | Model/type | Q;ty |
|---|---|---|---|
| 1 | Water flow meter | Magneic type | 1 |
| 2 | Water tank high level indicator | Level sensor | 1 |
| 3 | Treated water level | DO.sensor | 1 |
| 4 | Water PH | pH | 1 |
| 5 | Water level | Level sensor | 1 |
| 6 | Waste water level | Level sensor | 1 |
| 7 | Watertank control board | | 1 |
| | Total Price USD | 322000 | |

# ဆင်းရွှေလီသကြားစက် အမှတ် (၂) ၏
# ကြံကြိတ်ဝါး၊ သကြားချက်လုပ်မှုနည်းစဉ်

ဆင်းရွှေလီသကြားစက်ရုံ အမှတ် (၂) တစ်နေ့ကြံကြိတ်ဝါးနိုင်မှုမှာ ကြံမက်ထရစ်တန် (၄၀၀၀) ဖြစ်ပြီး အိတ်သွင်းသကြားထုတ်လုပ်နိုင်မှုမှာ တစ်နေ့လျှင် မက်ထရစ်တန် (၃၅၀)ဖြစ်ပါသည်။ ၎င်းစက်ရုံတွင် အသုံးပြုမည့် ကြံကြိတ်ဝါး သကြားချက်လုပ်မှုနည်းစဉ် အသေးစိတ်အား အောက်ပါအတိုင်း ရှင်းလင်းဖော်ပြအပ်ပါသည်-

၁။ ကြံပြင်ဆင်ခြင်း (Cane Preparation)

၂။ ကြံကြိတ်ဝါးခြင်းနှင့် ကြံရည်ညှစ်ထုတ်ယူခြင်း (Milling and Extraction)

၃။ ကြံရည်သန့်စင်ခြင်း (Juice Clarification)

၄။ ကြံရည်ကျိုခြင်း (Juice Evaporation)

၅။ သကြားအပွင့်ဖော် ချက်လုပ်ခြင်း (Pan Boiling)

၆။ သကြားထွေးအခေအားခံခြင်း၊ သကြားနှင့် တင်လဲရည်ခွဲထုတ်ခြင်းနှင့် သကြားအခြောက်ခံခြင်း (Centrifuging and Bagging)

## ၁။ ကြံပြင်ဆင်ခြင်း (Cane Preparation)

ကြံပြင်ဆင်ခြင်း၏ (Cane preparation) အဓိကရည်ရွယ်ချက်မှာ ကြံရိုးကြံချောင်းမှသည် စက်ယန္တရားများ၏ အကူအညီစွမ်းအားဖြင့် ကြံကြိတ်ဝါးမှုမစတင်မီ အသေးငယ်ဆုံး အစိတ်အပိုင်းထိ ပိုင်းဖြတ်ထုချေလျှက် ကြံကြိတ်ဝါးခြင်းအပိုင်းသို့ ပြင်ဆင်ပေးပို့ရခြင်းပင် ဖြစ်ပေသည်။ သို့မှသာ ကြံ၏အသေးငယ်နိုင်ဆုံးသေးငယ်သည့် ကြံအပိုင်းအစအဖြစ် ကြိတ်စင်အမှတ် (၁)မှစ၍ အမှတ် (၅)ထိ ကြိတ်ဝါးရန် ပြင်ဆင်ပေးနိုင်မှသာလျှင် ကြံရည်ညှစ်ထုတ်မှု အများဆုံးရရှိပြီး ကြံရည်ညှစ်နိုင်စွမ်းအား (Mill Extraction) ကောင်းရရှိနိုင်မည် ဖြစ်ပါသည်။

ကားများဖြင့်တင်ဆောင်လာသောကြံများကို ကွန်ပျူတာကတ္တားဖြင့် ချိန်တွယ်၍ ကောင်းကင်ဝန်ချီစက် (၄)စီးကို အသုံးပြုပြီး ကြံကျွေးစင်ပေါ်သို့ တင်ပြီး ၎င်းမှတဆင့် ကြံသယ်ကိရိယာထဲသို့ ချပေးပါသည်။ ကြံသယ်ကိရိယာ (၂)ခုရှိရာ ပထမကြံသယ်ကိရိယာတွင် ကြံညှိကိရိယာ (Cane Leveller) တပ်ဆင်ထားခြင်းအားဖြင့် ကြံသွားနှုန်းကို ညီစေရန် ထိန်းညှိထားရှိပါသည်။

၎င်းမှတဆင့် ကြံညှိကိရိယာမှဖြတ်ကျော်လာသော ကြံချောင်းများကို ကြံဖြတ်စက် (Cane Cutter) နှစ်ခုဖြင့် အဆင့်ဆင့်ခုတ်ပိုင်းပေး၍ ကြံရိုးကြံချောင်းမှ ကြံ၏ အသေးငယ်ဆုံးအပိုင်းအစဖြစ်အောင် ဆောင်ရွက်ပေးပါသည်။ သို့မှသာ ကြံပြုပြင်မှုအညွှန်းကိန်း (Preparation Index) အနည်းဆုံး (၈၅%) ရရှိပြီး ကြံရည်ညှစ်နိုင်စွမ်းအား (Mill Extraction) (၉၆%) ထိ ရရှိမည်ဖြစ်ပါသည်။

## ၂။ ကြံကြိတ်ဝါးခြင်းနှင့် ကြံရည် ညှစ်ထုတ်ယူခြင်း (Milling And Extraction)

အထက်ပါကဲ့သို့ ပြုပြင်ထားသောကြံများကို တစ်နာရီကြိတ်ဝါးစွမ်းအားတသမတ်တည်းဖြစ်စေရန်အတွက် ရောင်ခြည်သုံးကြံချိန်ကိရိယာ (Neuclear Weight Scale) အား ဖြတ်သန်းစေပါသည်။ ထို့နောက် ချေမွပြီး ကြံများတွင် သံတိုသံစများပါရှိလာပါက ကြိတ်လုံးများ ချို့ယွင်းမှုမဖြစ်စေရန် သံလိုက်ဖြင့် သံတိုသံစများကို စွဲကပ်ဖမ်းယူပါသည်။ သံတိုသံစဖယ်ထုတ်ပြီးသော ချေမွပြီးကြံများကို ကြိတ်စင် (၅)စင်ဖြင့် ကြိတ်ဝါးပြီး ထွက်ရှိလာသော ကြံရည်များကို ထုံးရည်ကြည်နှင့် ဖော့စဖောရစ်အက်စစ် ရောပေးပြီးနောက် ကြံရည်သန့်စင်ဌာနစိတ်သို့ ပို့လွှတ်ပါသည်။ ကြံကြိတ်ရာမှထွက်လာသော ကြံဖတ်လောင်စာများကို ဘွိုင်လာဌာနစိတ်သို့ပို့ပြီး လောင်စာအဖြစ် အသုံးပြုပါသည်။

## ၃။ ကြံရည်သန့်စင် (Juice Clarification)

ကြံရည်သန့်စင်စေရန် ကြံရည်တွင် သကြားမဟုတ်သော အရာဝတ္ထုများဖယ်ရှားရန် ယင်းသို့ဖယ်ရှားရာတွင် သကြားဓါတ်လေလွင့်ဆုံးရှုံးမှုကို အတတ်နိုင်ဆုံး ထိန်းသိမ်းရန်နှင့် ကြည်လင်တောက်ပသော ကြံရည်ကြည်ရရှိစေရန်အတွက် ဆောင်ရွက်ခြင်းဖြစ်ပါသည်။

ကြံရည်သန့်စင်ဌာနစိတ်တွင် ကြံရည်ကြည်ရရှိစေရန်အတွက် ဆောင်ရွက်ခြင်းဖြစ်ပါသည်။

ကြံရည်သန့်စင်ဌာနစိတ်တွင် ကြံရည်များကို အပူချိန် (60°~65°C) ရရှိအောင် ပထမအဆင့် အပူပေးကိရိယာ (Juice Heater) (၂)လုံးအား ဖြတ်ပြီးနောက် pH(6.9~7.1)ရရှိအောင် ထုံးရည်ရောခြင်း ကန့်ခိုးရိုက်ခြင်းများ ဆောင်ရွက်ပါသည်။ ၎င်းကြံရည်ကို ဆက်လက်၍ အပူချိန် (98~102°C) ရရှိအောင် ဒုတိယအဆင့် အပူပေးကိရိယာ (၂)လုံးအား ဖြတ်သန်းစေပြီးနောက် ကြံရည်အကြည်ခံကိရိယာ (Clarifier) သို့ ပေးပို့ပါသည်။ ကြံရည်အကြည်ခံကိရိယာအတွင်း၌ အနည်များ အနည်ထိုင်စေရန် အနည်ထိုင်ဓါတ်ကူဆေးဖြစ်သော (ကူရီဖလော့) အရည်ထည့်သွင်းပေးပါသည်။ အနည်ဖြင့် ရောနှောနေသော ကြံရည်နောက်ကို အနည်စစ်ကိရိယာ (Rotary Vacuum Filter) ဖြင့် စစ်ယူ၍ ရရှိလာသော ကြံရည်အကြည်နှင့်ကြံရည်အကြည်ခံကိရိယာမှ ရရှိသော ကြံရည်ကြည်များ ပေါင်းစပ်ပြီး တတိယ အပူပေးကိရိယာဖြင့် အပူချိန် (110~125°C) ထိရရှိအောင် အပူပေးပါသည်။ အနည်စစ်ကိရိယာမှ ထွက်ရှိလာသော စွန့်ပစ်ကြံမြုပ်ချေး (Mud)များကို ကြံစိုက်ပျိုးရေးအတွက် သဘာဝမြေသြဇာအဖြစ် ပြန်လည်အသုံးပြုသည်။

## ၄။ ကြံရည်ကျိုခြင်း (Juice Evaporation)

ကြံရည်ကျိုဌာနစိတ်သည် ကြံရည်သန့်စင်ဌာနစိတ်မှ အရောင်ချွတ်သန့်စင်ပြီးသော (Clarified Juice) အား သကြားအပွင့်ဖော်ဌာနစိတ်တွင် အသင့်အနေအထားဖြင့် သကြားချက်လုပ်နိုင်ရန်အတွက် ကြံရည်တွင်ပါဝင် သော ရေကိုခန်းခြောက်အောင် ကျိုချက်ပေးရသော ဌာနစိတ်ဖြစ်ပါသည်။

ကြံရည်သန့်စင်ဌာနစိတ်မှ အပူချိန် (110~125°C) ရှိသော ကြံရည်များကို အပျစ်နှုန်း (Brix) (55°~65°)ရှိသော သကာရည် (Syrup) ရရှိအောင် ကြံရည်ကျိုးအိုး (Evaporator) (၅)လုံးသို့ ဖြတ်သန်းစေပြီး နောက် ဒုတိယအကြိမ် ကန့်ခိုးရိုက်ပြီးနောက် သကြားအပွင့်ဖော်ဌာနစိတ်သို့ ပေးပို့ပါသည်။

## ၅။ သကြားအပွင့်ဖော်ချက်လုပ်ခြင်း (Pan Boiling)

သကြားအပွင့်ဖော်ချက်လုပ်ခြင်းသည် သကြားစက်များ၏ အဓိကအရေးကြီးသော လုပ်ငန်းတစ်ရပ်ဖြစ် ပါသည်။ သန့်စင်ပြီးသောသကာရည် (Syrup) တွင်ရှိနေသည့် သကြားပွင့်များကို -

(၁) သကြားပွင့်အများဆုံးထွက်ရှိရေး

(၂) သင့်တင့်သော သကြားအရွယ်အစား ရရှိရေး

(၃) သကြားဖြူများရရှိရေး

(၄) သကြားအထွက်နှုန်း (Recovery) မြင့်မားကောင်းမွန်ရေး

(၅) နောက်ဆုံးတင်လဲရည် (Final Molasses) သန့်စင်ရာနှုန်း (Purity) ကျဆင်းရေးကို ဦးတည်ဆောင် ရွက်ရပါသည်။

သကြားအပွင့်ဖော်ဌာနစိတ်တွင် သကာရည် (Syrup) အား "C" လေဟာနယ်သကြားချက်ဒယ် ("C" Vacuum Pan) တွင် မျိုးသကြားထွေး ("C" Massecuite) အဖြစ် ထုတ်လုပ်ပါသည်။

"C" သကြားအား ပြန်လည်ဖျော်ပြီးနောက် "B" လေဟာနယ်သကြားချက်ဒယ် ("B" Vacuum Pan) တွင် "B" သကြားထွေးအား ခါစက် (Continuous Centrifugal) ဖြင့် "B" တင်လဲရည်နှင့် "B" သကြားအဖြစ် ခွဲထုတ် ပါသည်။ ၎င်း "B" သကြားအား ပြန်လည်ဖျော်ပြီး "A" လေဟာနယ်သကြားချက်ဒယ် ("A" Vacuum Pan) တွင် "A" သကြားထွေး ("A" Massecuite) အဖြစ် ချက်လုပ်ပါသည်။ ၎င်း "A" သကြားထွေးအား ခါစက် (Batch Centrifugal) ဖြင့် "A" သကြားနှင့် "A" တင်လဲရည်ကို နောက်ဆုံးခွဲထုတ်ပါသည်။ အထက်ပါရရှိသော "A" တင်လဲရည်အား "B" သကြားထွေး ချက်လုပ်ရာတွင်လည်းကောင်း၊ "B" တင်လဲရည်အား "C" သကြားထွေး ချက်လုပ်ရာတွင်လည်းကောင်း ပြန်လည်အသုံးပြုပါသည်။

၆။ သကြားထွေးအခြေအနေခံခြင်း၊ သကြားနှင့်တင်လဲရည်ခွဲထုတ်ခြင်းနှင့် သကြားအခြောက်ခံခြင်း (**Centrifuging and Bagging**)

A,B, C သကြားထွေးများကို ခါစက်ဖြင့် မလည်ပတ်မှီ အအေးခံပေးရန် လိုအပ်ပါသည်။ အထူးသဖြင့် "C" သကြားထွေးကို ဆောင်ရွက်ပေးရန် လိုအပ်ပါသည်။သကြားချက်ဒယ်မှ ချက်လိုက်သော သကြားထွေးများသည် အပူချိန် (65°~70°C) ခန့်ရှိနေပြီး ယင်းသကြားထွေးတင်လဲရည်တွင် အချိုဓါတ်များပျော်ဝင်နေပါသည်။၎င်း အချိုဓါတ်များအား အအေးခ့ပေးခြင်းဖြင့် အပွင့်များဖြစ်ပေါ် စေပြီး သကြားဓါတ်ဆုံးရှုံးမှုကို ကာကွယ်နိုင်၍ တင်လဲရည် အထွက်နှုန်းကိုလည်း လျော့နည်းသွားစေမည်ဖြစ်ပါသည်။

ခါစက် ("A" Centrifugal )ဖြင့် လှည့်၍ ရရှိလာသော သကြားများတွင် အစိုဓါတ်များပါဝင်နေသောကြောင့် သကြားများ တာရှည်အထားခံရန်နှင့် သကြားအစိုပြန်ခြင်းများ မဖြစ်ပေါ် စေရန်အတွက်လည်းကောင်း "A"သကြား အစိုများကို သကြားအခြောက်ခံကိရိယာ (Hopper and Dryer)ဖြင့် အပူပေးအခြောက်ခံရပါသည်။ ၎င်းအပူပေး ကိရိယာမှထွက်ရှိလာသော သကြားတွင် အစိုဓါတ်ပါဝင်မှု (Moisture Content) (0.1%)အောက်ရှိရမည် ဖြစ်ပါသည်။

သကြားအခြောက်ခံကိရိယာမှ ထွက်ရှိလာသော သကြားများကို အိတ်သွင်းချိန်ချုပ်ခြင်း မဆောင်ရွက်မှီ သကြားအတွင်း သံမှုန်ပါရှိခြင်းမှ ကင်းဝေးစေရန်အတွက် သံလိုက်ဖမ်းကိရိယာ (Magnetic Separator) အသုံးပြု၍ သကြားအပွင့် သတ်မှတ်အရွယ်အစားရရှိစေရန်အတွက် ဇကာ (Grader) ဖြင့် ခွဲထုတ်ရပါသည်။ သတ်မှတ် အရွယ်အစားထက်ကြီးသော သကြားများကို ပြန်လည်အရည်ဖျော်၍ သကြားချက်လုပ်ရာတွင် ပြန်လည်အသုံးပြု ပါသည်။

ခြောက်သွေ့သန့်စင်ပြီး အရွယ်အစား ခွဲခြားပြီးသော သကြားများကို သကြားသိုလှောင်ကိရိယာ (Sugar Bin) တွင် ခေတ္တသိုလှောင်၍ အလိုအလျောက်စက်များဖြင့် သကြားတစ်အိတ်လျှင် (၅၀)ကီလိုကရမ် (သို့မဟုတ်) (၃၀)ပိဿာခန့် အိတ်သွင်းချိန်ချုပ်ရပါသည်။

# သကြားထုတ်လုပ်မှုဖြစ်စဉ်အဆင့်ဆင့်




တစ်ဖက်သို့ →

# သကြားထုတ်လုပ်မှုဖြစ်စဉ်အဆင့်ဆင့်မှအဆက်



# Ngwe Yi Pale Mining Co.,Ltd
# Process Plan



ငွေရည်ပုလဲကုမ္ပဏီမှ စိုက်ပျိုးလျက်ရှိသည့် ကြံအမျိုးအစား အမည်နှင့် စိုက်ဧက

| စဉ် | ကြံမျိုး | ၂၀၁၁-၂၀၁၂ | | ၂၀၁၂-၂၀၁၃ | | မှတ်ချက် |
|---|---|---|---|---|---|---|
| 1 | ROC - 16 | 611 | 0 | 621 | 0 | |
| 2 | ROC-22 | 482 | 0 | 400 | 0 | |
| 3 | YT-93-159 | 439 | 0 | 644 | 0 | |
| 4 | Gui-11 | 4 | 0 | - | - | |
| 5 | VMC-74/527 | 137 | 0 | 143 | 0 | |
| 6 | C-8027 | 17 | 0 | - | - | |
| 7 | Z-10 | 554 | 0 | 572 | 0 | |
| 8 | K-88 / 92 | 16 | 0 | 21 | 0 | |
| 9 | K-95/84 | 2 | 0 | 56 | 0 | |
| 10 | CO-1287 | 5712 | 0 | 5675 | 0 | |
| 11 | Triton | 6411 | 0 | 6375 | 0 | |
| 12 | YT-86/368 | 2434 | 0 | 2334 | 0 | |
| 13 | C-998 | 7 | 0 | - | - | |
| 14 | C-554 | 71 | 0 | - | - | |
| 15 | Phil-74/64 | 103 | 0 | 299 | 0 | |
| | **TOTAL** | **17000** | 0 | **17140** | 0 | |

## ယခင်စိုက်ပျိုးသော ကြံဧရိယာနှင့် ယခုစိုက်ပျိုးဧရိယာ နှိုင်းယှဉ်ဖော်ပြချက်

| စဉ် | ဒေသ | ယခင်စိုက်ပျိုးစဉ် | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁ | နောင်ချိုမြို့နယ် | ၁၆၀၀၀. ၀၀ | ၁၆၁၀၀. ၀၀ | ၁၆၃၃၀. ၀၀ | ၁၆၉၀၀. ၀၀ | ၁၇၄၅၀. ၀၀ | ၁၇၅၅၀. ၀၀ | |
| ၂ | ကျောက်မဲမြို့နယ် | ၁၀၀၀. ၀၀ | ၁၀၄၀. ၀၀ | ၁၀၇၀. ၀၀ | ၁၁၀၀. ၀၀ | ၁၁၅၀. ၀၀ | ၁၂၀၀. ၀၀ | |
| | စုစုပေါင်း | ၁၇၀၀၀. ၀၀ | ၁၇၁၄၀. ၀၀ | ၁၇၄၀၀. ၀၀ | ၁၈၀၀၀. ၀၀ | ၁၈၆၀၀. ၀၀ | ၁၈၇၅၀. ၀၀ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

ရှမ်းပြည်နယ်

စာအမှတ်၊ (၉၀၀၀ )/ ၃ - ၆၀၆ / အစရ(ရှမ်း)

ရက် စွဲ ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၄ ရက်

သို့

ဒုတိယညွှန်ကြားရေးမှူး

တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန

လားရှိုးမြို့

အကြောင်းအရာ။ စက်ရုံတည်ဆောက်ရန် မြေနေရာ တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) တွဲဖက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့၏ (၉-၇-၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ၈၈၈/မအ-၇

(၂) ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်မဲမြို့၏ (၁၀-၈-၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ၄ / ၃ - ၅ / ဦး ၆ (၄၂၆)

NGWE YI PALE MINING Co.,Ltd (SHIN SHEW LI SUGAR MILL)မှ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ကုန်းကြီးရွာမကျေးရွာအုပ်စု၊ ကွင်းအမှတ်(ကွင်းပြင်)၊ ကွင်းအမည်(အင်းဝိုင်းကွင်းပြင်)အတွင်း ခန့်မှန်းမြေပုံညွှန်း 93B/12(A-314892,B-319889,C-320886,D-318886,E-319879,F-317879,G-317884, H-315884,I-313881,J-312881,K-313884,L-311884,M-311882,N-310887,O-313888,P-313890,Q-316887)ရှိ မြေဧရိယာ(၁၅၀)ဧကခန့်တွင် (၁)ရက်လျှင်တန်(၄၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ရန်အတွက် ခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန် တင်ပြလျှောက်ထားခြင်းနှင့်ပတ်သက်၍ ကျောက်မဲခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြလာမှုအပေါ် အဆိုပါ မြေနေရာအား တင်ပြချက်ပါအတိုင်း (၁)ရက်လျှင်တန်(၄၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်နိုင်ရေး မြေဧရိယာ(၁၃၆)ဧကကို မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့်ပြုကြောင်းနှင့် လယ်ယာမြေ ဥပဒေအရ အခြားနည်းအသုံးပြုရန်အတွက် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း အကြောင်းကြားပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)

(စိုင်းဆာလူ၊ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး)

မိတ္တူကို

ပြည်နယ်မြေစာရင်းဦးစီးဌာန၊ တောင်ကြီးမြို့

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်မဲမြို့

NGWE YI PALE MINING Co.,Ltd

ရုံးလက်ခံ/မျှောစာတွဲ

5/52

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

ရှမ်းပြည်နယ်

စာအမှတ်၊ (ငွေ/ကြံ)/ - ၆၈၁(စည်းဝေး, /အစရ(ရှမ်း)

ရက် စွဲ၊ ၂၀၁၂ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်

သို့

ပြည်ထောင်စုဝန်ကြီး
စက်မှုဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ တစ်ရက်လျှင် ကြံတန်ချိန်(၄၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်ရုံတည်ဆောက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ ငွေရည်ပုလဲသတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်၏ (၁၁-၈-၂၀၁၂)ရက်စွဲပါ တင်ပြစာ

ငွေရည်ပုလဲသတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်မှ ၂၀၁၂-၂၀၁၃ ကြံရာသီတွင် နောင်ချိုနှင့် ကျောက်မဲမြို့နယ်အတွင်း ကြံစိုက်ဧက(၂၂၇၈၀)ခန့်ထိ တိုးချဲ့စိုက်ပျိုးနေသည့် အတွက် နောင်ချိုမြို့နယ်၊ ကုန်းကြီးရွာမကျေးရွာအုပ်စု၊ အင်းဝိုင်းကျေးရွာ၊ မန္တလေး-လားရှိုး ကားလမ်းမကြီး၏ မိုင်တိုင်အမှတ်(၆၂ မိုင် ၄ ဖာလုံ)အနီး၊ မြေဧရိယာ(၁၃၆)ဧကတွင် တစ်ရက်လျှင် ကြံတန်ချိန်(၄၀၀၀)ကြိတ်ဝါးနိုင်သည့် ဆင်းရွှေလီ သကြားစက်(၂) စက်ရုံတစ်ရုံထပ်မံတိုးချဲ့ ဆောက်လုပ်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေးအမှတ်စဉ်(၁၉/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်-၈(ခ)အရ အဆိုပါ မြေနေရာရှိ ဧရိယာ(၁၃၆)ဧကတွင် တစ်ရက်လျှင် ကြံတန်ချိန်(၄၀၀၀)ကြိတ်ဝါးနိုင်သည့် ဆင်းရွှေလီ သကြားစက်(၂) စက်ရုံတစ်ရုံ ထပ်မံတိုးချဲ့ ဆောက်လုပ်နိုင်ရေး သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများ နှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပေးပို့တင်ပြအပ်ပါသည်။

၂၄/၉/၁၂

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(စိုင်းထွန်းရင်၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး)

မိတ္တူကို

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်မဲမြို့
ငွေရည်ပုလဲမိုင်းနင်းကုမ္ပဏီလီမိတက်၊ အမှတ်-၁၇၇၊ (၇၇)လမ်း၊ ၃၁×၃၂လမ်းကြား၊ မန္တလေးမြို့
ရုံးလက်ခံ
မျှောစာတွဲ

5/22

မြေစာရင်းပုံစံ – ၁၀၅

2012 - 0158313

မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ သော လက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦး ပိုင်မြေပုံ လက်ခံရေးကူးရန်ပုံစံ

မြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် တံဆိပ်ခေါင်း — ၂၀၀ကျပ် K 200 K 200

| | |
|---|---|
| တိုင်းဒေသကြီး/ ပြည်နယ် ရှမ်းပြည်နယ် (မြောက်ပိုင်း) | |
| ခရိုင် ကျောက်မဲ | |
| မြို့နယ်/ မြို့နယ်ခွဲ နောင်ချို | |
| ရပ်ကွက်/ ကျေးရွာအုပ်စု ထုံကြီး ရွာအုပ်စု | |
| ကွင်း/ အကွက်အမှတ်နှင့်အမည် အင်းပိုင်းကွင်းမြင် | |
| ဦးပိုင်အမှတ်/ မြေကွက်အမှတ် — | |



| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ/ ပိုင်ရှင်/ ဂရန်ရှင်/ အငှားဂရန်ရှင် အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| – | – | အမှတ် ၇ | လယ် | ၂၃.၀၀ | ခရိုင်မြေစာရင်း |
| – | – | " | ယာ | ၁၁၃.၀၀ | ဦးစီးဌာန၏ ၁၁/၁၂ |
| | | | | | နေ့စွဲပါစာအမှတ် |
| | | | ပေါင်း | ၁၃၆.၀၀ | [illegible] |
| | | | | | အရ ရေးကူးသည် |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | ၁၀ကြား စက်ရုံ ဆောက်လုပ်အသုံးပြုရန် အတွက် တင်ပြရန် |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် – ရှေ့ရှည်ပုလဲ စိုင်းနန်း ကုမ္ပဏီလီမိတက် (Shin Shew Li Sugar Mill)

လျှောက်လွှာတင်သည့်နေ့စွဲ – ၆. ၇. ၂၀၁၂

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ – ၁၁. ၁၂. ၂၀၁၂

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော ( ၂၀၁၂/၁၃ ) ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် – 11.12.2012

နေ့စွဲ –

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် – မြို့နယ်မြေစာရင်းဦးစီးဌာန နောင်ချို ၁၁. ၁၂. ၂၀၁၂

နေ့စွဲ –

မြို့နယ်မြေစာရင်းဦးစီးဌာန နောင်ချိုမြို့ 11.12.2012

စိစစ်အတည်ပြုပါသည်။

မြို့နယ်မြေစာရင်းဦးစီးဌာနမှူးလက်မှတ်

(ခင်စိုး) ဦးစီးအရာရှိ မြို့နယ်မြေစာရင်းဦးစီးဌာန နောင်ချိုမြို့

နေ့စွဲ ၁၁. ၁၂. ၂၀၁၂

# ဇွဲရည်ပုလဲ မိုင်းနှင်းကုမ္ပဏီ
# အင်းရှေ့လီသကြားစက်အမှတ်(၂)
# တည်ဆောက်မည့်ပန္နက်ပြပုံ



# နောင်ချိုမြို့နယ်နှင့်ကျောက်မဲမြို့နယ်အတွင်း
# ဆင်းရွှေလီသကြားစက်ကြံစိုက်ပျိုးမှုအခြေပြမြေပုံ



## နောင်ချိုမြို့နယ်ကျေးရွာအုပ်စု
## အညွှန်းပြမြေပုံ



# ငွေရည်ပုလဲ မိုင်းနှင်းကုမ္ပဏီလီမိတက်

## ဆင်းရွှေလီသကြားစက် အမှတ်(၂)(အင်းဝိုင်း) ကုန်ထုတ်လမ်းကြောင်းပြမြေပုံ

မြောက်

စကေး ၁း၅၀၀၀၀




ရည်ညွှန်းချက်

- ကားလမ်း
- မီးရထားလမ်း
- ကုန်ထုတ်လမ်းကြောင်း
- ဆောက်လုပ်မည့် တံတား
- ချောင်း/မြောင်း
- ကျေးရွာ
- စက်ရုံတည်နေရာ

# NGWE YI PALÈ MINING CO., LTD.

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးစီမံချက်

ဝန်ထမ်းများ သက်သာချောင်ချိန်ရေးနှင့် လုပ်ငန်းခွင်သာယာရေး၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး များကို စက်ရုံအနေဖြင့် အောက်ပါအတိုင်း အထူးဦးစားပေး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ယခုလက်ရှိ ဆင်းရွှေလီသကြားစက်ရုံအမှတ် (၁)တွင် လက်ရှိခံစားခွင့်ပေးထားသော လုပ်ငန်းခွင်သာယာမှု ခံစားခွင့်များထက် မနည်းအောင် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။ ၎င်းအပြင်ဝန်ထမ်းများအတွက် အားကစားကွင်းများ တည်ဆောက်ခြင်း၊ ကျန်းမာရေးအတွက် ဆေးပေးခန်းများ တည်ထောင်ပေးခြင်း၊ ဘာသာရေးဝတ်ရွတ်အသင်းများဖွဲ့စည်းပေးခြင်း၊ စာကြည့်တိုက်များ တည်ထောင်ပေးခြင်း၊ နေ့ကလေးထိန်းကျောင်း၊ ဝန်ထမ်းသက်သာဆိုင်များဖွင့်လှစ်ပေးခြင်းနှင့် နှစ်စဉ် ဝန်ထမ်းသားသမီးများအား မူလတန်းမှ တက္ကသိုလ်အဆင့်ထိ ပညာသင်စရိတ်များထောက်ပံ့ပေးခြင်းလုပ်ငန်းများ ကို ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။

ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ဝန်ထမ်းတိုင်းအား လစာအပြင် စားစရိတ်များ ထောက်ပံ့ပေး သွားမည်ဖြစ်ပါသည်။ ၎င်းအပြင် ဝန်ထမ်းများ သာရေးကိစ္စများတွင် ဝန်ထမ်းအချင်းချင်း မင်္ဂလာဆောင်လျှင် (၅၀၀၀၀)ကျပ်၊ ဝန်ထမ်းနှင့် ပြင်ပပုဂ္ဂိုလ်မင်္ဂလာဆောင်လျှင် (၃၀၀၀၀) ကျပ်၊ ဝန်ထမ်းမီးဖွားစရိတ် (၂၀၀၀၀၀) ကျပ်တို့ကို လက်ရှိဆင်းရွှေလီသကြားစက်အမှတ် (၁)တွင် ဆောင်ရွက်ပေးနေသကဲ့သို့ ဆင်းရွှေလီသကြားစက် အမှတ် (၂) အင်းဝိုင်းစီမံကိန်းတွင်လည်း ဝန်ထမ်းများအား ပံ့ပိုးပေးသွားမည်ဖြစ်ပါသည်။ ၎င်းအပြင် အခါအားလျော်စွာလည်း သီးခြားထောက်ပံ့မှုများ ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။

ဝန်ထမ်းနာရေးကိစ္စများတွင် ဝန်ထမ်းကိုယ်တိုင်ဖြစ်ပါက လစာ၏ (၃)ဆနှင့်ညီမျှသော ငွေကိုလည်းကောင်း၊ ဝန်ထမ်း၏ ဇနီး/ခင်ပွန်းဖြစ်ပါက လစာ၏ (၂)ဆနှင့်ညီမျှသော ငွေကိုလည်းကောင်း၊ ဝန်ထမ်း၏ မိဘဖြစ်ပါက (၃၀၀၀၀)ကျပ်ကိုလည်းကောင်း အသီးသီးထောက်ပံ့ပေးသွားမည်ဖြစ်ပါသည်။ ဝန်ထမ်းမိသားစုများ ချက်ရေး ပြုတ်ရေး အဆင်ပြေစေရန် နေ့ ည မပြတ် လျှပ်စစ်မီးနှင့် ရေကိုလည်း အခမဲ့အသုံးပြုခွင့်စီစဉ်ဆောင်ရွက်ပေးသွား မည်ဖြစ်ပါသည်။

ကြံကြိတ်ဝါးသကြားချက်လုပ်မှုဆောင်ရွက်ချိန်တွင် အလှည့် (၂)လှည့်စနစ်ဖြင့် (၂၄)နာရီ စဉ်ဆက်မပြတ် ဆောင်ရွက်ရာ၌ ညအလှည့်ဝန်ထမ်းများအား အာဟာရ ဖြည့်တင်းခြင်းအစီအစဉ်အရ ညစဉ် ကြက်ဥ၊ ကော်ဖီ၊ လ္ဘက်ရည်နှင့် ခေါက်ဆွဲခြောက်ထုတ်များအား အာဟာရ ကျွေးမွေးသွားမည်ဖြစ်ပါသည်။ နှစ်စဉ်ကြံကြိတ်ရာသီ ပြီးဆုံး၍ စက်ပိတ်အောင်ပွဲ ၊ ပျော်ပွဲ ၊ ရှင်ပွဲများ ကျင်းပပေးခြင်း၊ ဝန်ထမ်းများအတွက် ကံစမ်းမဲများဖောက်ပေး ခြင်း၊ အလှည့်ကျစနစ်ဖြင့် ခွင့်ရက်များ ပေး၍ ဆွေးမျိုး၊ မိဘများထံသို့ ပြန်ခွင့်ပြုခြင်းတို့ကိုလည်း ဆောင်ရွက်ပေး သွားမည်ဖြစ်ပါသည်။

လုပ်ငန်းခွင်အန္တရာယ်ကင်းရှင်းရေးအတွက် စက်ရုံဘွိုင်လာလုပ်သားများအား အန္တရာယ်ကာကွယ်ရေး ပစ္စည်းများဖြစ်သည့် အပူခံရင်ကာများ ဝတ်ဆင်ပေးခြင်း၊ Safety Belt များထုတ်ပေးခြင်း၊ အပူကာ မျက်နှာကာမှန် ၊ လက်အိတ် ၊ ပွိုင့်ဖိနပ် နှင့် နှာခေါင်းစည်းများ ထုတ်ပေးထားပြီး စက်ရုံဝန်ထမ်းများအား Helmet များထုတ်ပေးခြင်း တို့ကို စီစဉ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# NGWE YI PALE MINING CO., LTD.

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740


## ဆင်းရွှေလီသကြားစက် အမှတ်(၂) မှ ထွက်ရှိသော စွန့်ပစ်ရေများအား ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးအတွက် စီမံဆောင်ရွက်မှုများ

ဆင်းရွှေလီသကြားစက်အမှတ်(၂)မှ ကုန်ထုတ်လုပ်မှုဆောင်ရွက်စဉ်ကာလအတွင်း စက်ရုံအနေဖြင့် ဘွိုင်လာနှင့် ကြိရည်ကျို၌ာနစိတ်မှ စွန့်ပစ်ရေများထွက်ရှိပါသည်။ ယင်းစွန့်ပစ်ရေများကို စက်ရုံစတင် တည်ထောင်စဉ်ကပင် ပတ်ဝန်းကျင်ကို ညစ်ညမ်းမှု မဖြစ်စေရေးအတွက် စနစ်တကျ အောက်ပါအတိုင်း စွန့်ပစ်ရေများအား စီမံဆောင်ရွက်ထားရှိပါသည်။

### ဘွိုင်လာမှထွက်ရှိသော စွန့်ပစ်ရေအား ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ရေးအတွက် စီစဉ်ဆောင်ရွက်မှုများ

ဤစက်ရုံတွင် အသုံးပြုမည့်ဘွိုင်လာကို ခေတ်မီနည်းစနစ်ဖြင့်အပြည့်အဝ လောင်ကျွမ်းစေခြင်း (Complete Combustion)၊ လုံလောက်သော အမှုန့်ထိန်းချုပ်မှု (Dust Control) နှင့် လေထုညစ်ညမ်းစေမည့် ဓါတ်ငွေ့ထိန်းချုပ်မှုစနစ် (CO2 Control) စသည့် ကိရိယာများပါဝင်သော ဘွိုင်လာကို တည်ဆောက်အသုံးပြုပါမည်။ ထို့အပြင် တည်ဆောက်မည့် ခေါင်းတိုင်ကိုလည်း အမြင့် (91 m) တည်ဆောက်မည်ဖြစ်ပါသည်။

လူထုကျန်းမာရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် လေထုအရည်အသွေးတို့ကို မထိခိုက်စေရန် အတွက် ကြံဖတ်လောင်စာများအား မီးတိုက်ခန်း (Combustion Chamber) အတွင်း၌ (95%) လောင်ကျွမ်းစေပြီး နောက် လောင်ကျွမ်းမှု မရှိသော အမှုံအမွှားနှင့် ပြာနုများ၊ ချော်ပြာများကို မီးတိုက်ခန်း၌ပင် ဆွဲထုတ်ဖယ်ရှားသွား မည်ဖြစ်ပါသည်။ ကျန်မီးခိုးနှင့် အလွန်သေးငယ်သော အမှုံအမွှား အညစ်အကြေးများကို လေစုပန်ကာဖြင့် စုပ် ထုတ်၍ ဘင်ကျူရီ ပိုက် (Venturi Pipe)ဖြင့် ဖိအားမြှင့်စေပြီး အစစ်ခံကိရိယာ (Filter) အိုးအပေါ်မှ ဒေါင်လိုက် ဝင်ရောက်စေသည်။ ဝင်လာသော မီးခိုးများအား နော်ဇယ်တပ်ထားသော ညာရစ်ရေပန်းဖြင့် အရှိန်ပြင်းစွာ ဖြန်း ချပါသည်။ ထိုသို့ဖြန်းခြင်းအားဖြင့် မီးခိုးတွင်ပါဝင်သော အမှုံအမွှားများသည်လည်းကောင်း၊ ($No_2$, $CO_2$, CO) စသည့် ဓါတ်ငွေ့များရေဖြင့် ဓါတ်ပြု၍လည်းကောင်း၊ ရေတွင်ပျော်ဝင်၍လည်းကောင်း၊ အနှယ်အနှစ်အဖြစ် စုပုံ ကျဆင်းစေခြင်းဖြင့် စွန့်ထုတ်ပါသည်။

ဘွိုင်လာမှ အအေးခံရန်အတွက် အသုံးပြုသော ရေများကိုလည်း ရေသန့်စင်မှုစနစ်ကို အသုံးပြု၍ ရေကို လှည့်လည်အသုံးပြုခြင်း (Recycle) စနစ်ဖြင့် ပြန်လည်အသုံးပြုမည်ဖြစ်ပါသည်။ ယင်းစနစ်ဖြင့် သန့်စင်ပြီးသော ရေသည် သောက်သုံးရေအဖြစ်ဖြင့် သုံးစွဲနိုင်ပြီး ရေသုံးစွဲမှုပမာဏကိုလည်း လျော့နည်းစေပါသည်။

# NGWE YI PALÈ MINING CO., LTD.

NO.(62) , 15th STREET, BET (87-88) STREET, MANDALAY . TEL : 02-31941,02-34015
ROOM (402) , NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740


ထို့ပြင် ဓါတ်ငွေ့များတွင်ပါဝင်သော အမှုံအမွှားများကို အနည်စစ်ကိရိယာ (High Voltage Electrostatic Preciptiator, H.V. E.P) ဖြင့် ထပ်မံဖမ်းယူခြင်းကြောင့် ထွက်လာသော မီးခိုးသည် ($NO_2$, $CO_2$, CO) စသည့် ဓါတ်ငွေ့များပါဝင်မှု အလွန်လျော့ကျနည်းပါးစေပြီး (98%) သန့်စင်ပြီး မီးခိုးဖြူအဖြစ် ခေါင်းတိုင်မှတဆင့် ပတ်ဝန်းကျင်လေထုသို့ စွန့်ထုတ်ပါသည်။ ခေါင်းတိုင်မှ စွန့်ထုတ်သည့် မီးခိုးတွင် ပါဝင်သည့် အခိုးအငွေ့တွင် အညစ်အကြေးနှင့် အမှုံအမွှားပါဝင်မှုသည် အပြည်ပြည်ဆိုင်ရာ သတ်မှတ်ထားသည့် စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်မည်ဖြစ်ပါသည်။

**ကျိုချက်ရုံမှထွက်ရှိသော စွန့်ပစ်ရေအား ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရေးအတွက် စီစဉ်ဆောင်ရွက်မှုများ**

ကျိုချက်ရုံရှိ ကြံမြှုပ်ချေးစစ်သည့်ကိရိယာတွင် ကြံမြှုပ်ချေးပိတ်စများအား ရေနွေးဖြင့် ဆေးကြောပါသည်။ ၎င်းဆေးကြောရေများကို ပြင်ပသို့ စွန့်ထုတ်ပစ်ခြင်း မရှိဘဲ ပြန်လည်အပူပေးခြင်း၊ အနယ်ထိုင်စေခြင်းဖြင့် အရည်ကြည်ကိုပြန်လည် ရရှိအောင် ပြုလုပ်ပါသည်။ ၎င်းအရည်ကြည်များကို ရေနွေးအစား ကြံမြှုပ်ချေးစစ်သည့် ကိရိယာတွင်ပြန်လည် အသုံးပြုခြင်းအားဖြင့် ရေနွေးသုံးစွဲမှုကို လျော့ကျစေခြင်း၊ ပြင်ပသို့ ကြံမြှုပ်ချေးပိတ်စ ဆေးရေများ လုံးဝ စွန့်ပစ်ခြင်းမရှိသဖြင့် ပတ်ဝန်းကျင်ကိုလည်း ညစ်ညမ်းမှု မဖြစ်စေတော့ပါ။

ဆင်းရွှေလီသကြားစက်အမှတ် (၂)စက်ရုံဝန်းကျင်တွင် ကျွန်းပင် ၊ ရေမနေပင် ၊ ရေသင်းဝင်ပင်နှင့် စားပင် သီးပင်၊ အရိပ်ရအပင်များ စိုက်ပျိုးထားရှိမည်ဖြစ်ပါသည်။ ပန်းမာလာနှင့် မြက်ခင်းများစနစ်တကျ စိုက်ပျိုးထားရှိမည့်အပြင် သန့်ရှင်းသော ပတ်ဝန်းကျင်များဖြစ်အောင် ဥယျာဉ်စက်ရုံတစ်ခုသဖွယ် ဖန်တီးတည်ဆောက်ထားသော သဘာဝပတ်ဝန်းကျင်ကို ထိန်းသိမ်းစောင့်ရှောက်သွားမည်ဖြစ်ပါသည်။

ထို့ပြင်စက်ရုံပိုင်ကြံစိုက်ခင်းများ၏ စည်းရိုးများတွင် ကျွန်းပင် ၊ ရေမနေပင် ၊ ရေသင်းဝင်ပင်နှင့် ဝါးပင်များကို စိုက်ပျိုးကာ လေထုအတွင် $CO_2$ ပါဝင်မှုလျော့နည်းစေရန် ရည်ရွယ်၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ရေးကို စနစ်တကျဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

**Thein Myint**
**Managing Director**
**Ngwe Yi Palè Mining Co., Ltd.**

# NGWE YI PALE MINING CO., LTD.

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740


## မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်

ငွေရည်ပုလဲမိုင်းနင်းကုမ္ပဏီ၊ ဆင်းရွှေလီသကြားစက်ရုံအမှတ် (၂)စီမံကိန်းသည် နောင်ချိုမြို့နယ်၊ ကုန်းကြီးကျေးရွာအုပ်စု၊ အင်းပိုင်းကျေးရွာအနီးတွင် တည်ရှိပါသည်။ စက်ရုံတည်ဆောက်မည့်နေရာ၏ အနောက်ဘက်တွင် ရေတံခွန်ချောင်းနှင့် အရှေ့ဘက်တွင် ဖောင်းအော်ချောင်းတို့ရှိပြီး နွေ ၊ မိုး ၊ ဆောင်း အမြဲရေရရှိပါသည်။ ယင်းချောင်းဘေးများ၏ စက်ရုံဧရိယာအနီးတွင် တောအုပ်ငယ် နှင့် ဝါးတောများ၊ ချုံပုတ်တောများပါရှိသဖြင့် နွေရာသီတွင် တောမီးအန္တရာယ်ရှိနိုင်ပါသည်။ ဝန်ထမ်းအိမ်ယာများမှလည်းကောင်း၊ စက်ရုံလျှပ်စစ်မှလည်းကောင်း၊ ဘွိုင်လာကြိဖတ် လောင်စာနှင့် စက်သုံးဆီများမှလည်းကောင်း မီးဘေးအန္တရာယ်ရှိနိုင်ပါသဖြင့် စက်ရုံပစ္စည်းများ မဆုံးရှုံးစေရေးနှင့် ဝန်ထမ်းများ မီးဘေးအန္တရာယ်ကင်းရှင်းစေရေးအတွက် မီးဘေးလုံခြုံရေးကို အောက်ပါရည်ရွယ်ချက် (၂) ရပ်ဖြင့် စီမံချက်ချ၍ အထူးဂရုပြု ဆောင်ရွက်သွားပါမည်။

(က) ဆင်းရွှေလီသကြားစက်ရုံအမှတ်(၂) အင်းပိုင်းစီမံကိန်း၌ မီးဘေးအန္တရာယ်မရှိစေရန် ဝိုင်းဝန်းကြိုတင် ကာကွယ်သွားရန်၊

(ခ) စက်ရုံပိုင်ပစ္စည်းများ၊ အဆောက်အဦးများ၊ ဝန်ထမ်းအိမ်ယာများအား မီးဘေးအန္တရာယ်မှ ကာကွယ်စောင့်ရှောက်ရန်၊ အကြမ်းဖျဉ်းအားဖြင့် စီမံချက်အား (၂)ပိုင်းခွဲ၍ ဆောင်ရွက်သွားပါမည်။

(ဂ) မီးဘေးကြိုတင်ကာကွယ်ခြင်း

(ဃ) မီးလောင်မှုဖြစ်ပေါ်ပါက ဝိုင်းဝန်းငြိမ်းသတ်ခြင်းတို့ကို စီမံဆောင်ရွက်သွားပါမည်။

၁။ မီးဘေးကြိုတင်ကာကွယ်ခြင်း။ ။ အောက်ပါအတိုင်း စနစ်တကျအဖွဲ့များဖွဲ့စည်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(က) တောမီးတားဆီးကာကွယ်ရေးအဖွဲ့၊

(ခ) ပေါ့ဆမီးကြိုတင်ကာကွယ်ရေးအဖွဲ့၊

(ဂ) လျှပ်စစ်ဝါယာရှော့မှတဆင့် မီးလောင်းမှုမဖြစ်ပေါ်စေရေးတားဆီးကာကွယ်ရေးအဖွဲ့၊

(ဃ) စက်ရုံတွင် မီးဘေးကြိုတင်ကာကွယ်ရေးအဖွဲ့၊

(င) မီးသတ်အဖွဲ့ ဖွဲ့စည်းတာဝန်ပေးခြင်း၊

၂။ **မီးလောင်မှုဖြစ်ပေါ်ပါက ဝိုင်းဝန်းငြိမ်းသတ်ခြင်း။** ။ အောက်ပါအတိုင်း အဖွဲ့များဖွဲ့စည်းဆောင်ရွက်ပါမည်။

(က) မီးငြိမ်းသတ်ခြင်း၊

(ခ) အရေးကြီးပစ္စည်းများသိမ်းဆည်းခြင်း၊ သယ်ယူခြင်း၊

(ဂ) ပြင်ပအကူအညီ ဆက်သွယ်ခြင်း၊

**(က) မီးငြိမ်းသတ်ခြင်း**

စက်ရုံနယ်နိမိတ်အတွင်း မည်သည့်နေရာတွင်မဆို မီးလောင်မှုဖြစ်ပွားခဲ့လျှင် မီးလောင်မှု ဖြစ်ပွားသည်ကို စတင်မြင်တွေ့သိရှိသူသည် "မီးလောင်နေပြီ၊ မီးလောင်နေပြီ" ဟု အော်ဟစ်၍ မီးလှန့်သံချောင်းခေါက်ခြင်း၊ မီးလောင်မှုဖြစ်သည့်အဆောင်သို့ သွယ်တန်းထားသည့် ဓါတ်အားလိုင်း၊ မီးလိုင်းအား မိန်းခလုတ်ပိတ်ခြင်း၊ ရေတင်ကားများဖြင့် မီးလောင်မှုဖြစ်သည့်နေရာသို့ ချက်ခြင်းလာရောက် ငြိမ်းသတ်ခြင်းဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**(ခ) အရေးကြီးပစ္စည်းများသိမ်းဆည်းခြင်း၊ သယ်ယူခြင်း**

စက်ရုံ၏ ဌာနများ၊ ရုံးများသည် မီးလောင်မှုပေါ်ပေါက်လာပါက ဦးစားပေးသယ်ယူရမည့် ပစ္စည်းများ စာရွက်စာတမ်းများအား ဝန်ထမ်းလူအင်အား ၊ စက်ရုံပိုင်ယာဉ်များဖြင့် အမြန်ဆုံးပြောင်းရွှေ့နိုင်အောင် စီမံထားရှိပါသည်။ ရုံးတွင်းနှင့် စက်ရုံအတွင်း၌လည်း "မီးလောင်လျှင် ဦးစားပေးသယ်ရန်" ဟူသော သတိပေးစာတမ်းများ ချိတ်ဆွဲ၍ ဆောင်ရွက်သွားပါမည်။ဦးစားပေးသယ်ယူရန် အဆင့်သတ်မှတ်ခြင်းများကို ကြိုတင်ပိုင်းခြားသတ်မှတ်ထားပါသည်။

**(ဂ) ပြင်ပအကူအညီ ဆက်သွယ်ရယူခြင်း**

မီးလောင်လျှင် အမြန်ငြိမ်းသတ်နိုင်ရန်အဖွဲ့ခွဲများဖြင့် တာဝန်သတ်မှတ်ဆောင်ရွက်စေမည်ဖြစ်ပြီး၊ ကွပ်ကဲရေးနှင့်ဆက်သွယ်ရေးဌာနချုပ်နေရာတစ်ခုသတ်မှတ်၍ ပင်မကြီးကြပ်ကွပ်ကဲရေးအဖွဲ့ကို ဖွဲ့စည်းဆောင်ရွက်ပါမည်။ ၎င်းမှတဆင့် အုပ်ချုပ်ထောက်ပံ့မှု ပြင်ပအဖွဲ့နှင့် ဆက်သွယ်ရေးအဖွဲ့များ ဖွဲ့စည်းပြီး နောင်ချိုမြို့နယ်၊ ပြင်ဦးလွင်မြို့နယ် မီးသတ်တပ်ဖွဲ့များနှင့် ဆက်သွယ်၍ အကူအညီများ ရယူဆောင်ရွက်သွားမည် ဖြစ်ပါသည်။ အဖွဲ့ခွဲ၊ အဖွဲ့ငယ်များအဆင့်ဆင့် ဖွဲ့စည်း၍ အဖွဲ့တစ်ခုချင်းအား လုပ်ဆောင်ရမည့် လုပ်ငန်းတာဝန်များကို သီးခြားသတ်မှတ်၍ တာဝန်ပေးဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# NGWE YI PALÈ MINING CO., LTD.

NO.(62) , 15th STREET, BET (87-88) STREET, MANDALAY . TEL : 02-31941,02-34015
ROOM (402) , NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## စက်ရုံတည်ဆောက်မည့်နယ်မြေ ဒေသခံလူထုဖွံ့ဖြိုးရေးအတွက် ထောက်ပံ့ကူညီမည့် အစီအစဉ် အကြောင်းအရာ

ယခုတည်ဆောက်မည့် ဆင်းရွှေလီသကြားစက်အမှတ် (၂) စီမံကိန်း (အင်းဝိုင်း) တွင် ဒေသရေမြေနှင့် နယ်မြေခံလူထု၏ ကျေးဇူးကို တုံ့ပြန်ရန်နှင့် ကုမ္ပဏီနှင့် ဒေသခံပြည်သူများအကျိုးဖြစ်ထွန်းစေရန်ရည်ရွယ်၍ ကုမ္ပဏီတည်ရှိရာ စက်ရုံအနီးဒေသများတွင် လူမှုရေး၊ ပညာရေး၊ လမ်းတံတားစသည့် အကျိုးပြုလုပ်ငန်းများကို လက်လှမ်းမီသမျှ ဆောင်ရွက်လုပ်ကိုင်သွားပါမည်။

ကုမ္ပဏီအနေဖြင့် လက်ရှိဆင်းရွှေလီသကြားစက်အမှတ် (၁) နှင့် ဘိလပ်မြေစက်ရုံ(နောင်ချို) တည်ရှိရာ နေရာများတွင် စာသင်ကျောင်း (၅)ကျောင်း၏ စာသင်ခုံများ၊ ပညာရေးထောက်ပံ့ပစ္စည်းများ၊ ကျေးရွာများ လျှပ်စစ်မီးလင်းရေလုပ်ငန်းအကူအညီများပံ့ပိုးကူညီပေးခြင်း၊ သောက်သုံးရေရရှိရေး အကူအညီများ၊ ရေလှောင်မည့် ရေကန်များ၊ ဒေသရှိ ဘုန်းတော်ကြီးကျောင်းများပြုပြင်ပေးခြင်း ၊ လမ်းပန်းဆက်သွယ်ရေးလွယ်ကူစေရန် လမ်းဖောက်ပေးခြင်း၊ တံတားတည်ဆောက်ပေးခြင်း၊ ဖြုန်းခင်းလမ်း၊ ကျောက်ချောလမ်းများ ဆောင်ရွက်ပေးခြင်းစသည့် ပညာရေး၊ လူမှုရေး အစရှိသည့် ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများအတွက် (၁၂၆၅၉)သိန်းခန့် သုံးစွဲခဲ့ပြီးဖြစ်ပါသည်။

ဆက်လက်၍လည်း ကုမ္ပဏီအနေဖြင့် ဆင်းရွှေလီသကြားစက်အမှတ် (၂)တည်ဆောက်မည့်ဒေသဝန်းကျင်တွင် လမ်းများခင်းပေးခြင်း၊ တံတားများပြွန်ချတပ်ဆင်ပေးခြင်း ၊ တံတားများပြုပြင် အသစ်တည်ဆောက်ပေးခြင်း၊ ဘန့်ဘွေးကျေးရွာတွင် သားဖွားခန်းတည်ဆောက်ပေးခြင်း၊ အင်းဝိုင်းကျေးရွာ ဘုန်းတော်ကြီးကျောင်း ဆောက်လုပ်ရေးအတွက် အလှူငွေများထည့်ဝင်လှူဒါန်းခြင်း စသည့် ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများကို ဆောင်ရွက်ပြီးဖြစ်ပါသည်။ ဆက်လက်၍လည်း ဒေသ၏ ပညာရေး၊ လူမှုရေး၊ ဘာသာရေး ၊ လမ်းပန်းဆက်သွယ်ရေးလုပ်ငန်းများကို ကုမ္ပဏီအနေဖြင့် ကူညီပံ့ပိုးသွားမည့်အပြင် စက်ရုံမှ ပိုလျှံသောလျှပ်စစ်ဓါတ်အားကိုလည်း စက်ရုံတည်ရှိရာအနီးရှိကျေးရွာများ မီးလင်းရေးအတွက် ကူညီဆောင်ရွက်သွားရန် လျာထားစီစဉ်ဆောင်ရွက်လျက်ရှိပါသည်။

လေးစားစွာဖြင့်

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# NGWE YI PALÈ MINING CO., LTD.

NO.(62) , 15th STREET, BET (87-88) STREET, MANDALAY . TEL : 02-31941,02-34015
ROOM (402) , NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## ဖော်ထုတ်လျက်ရှိသည့် လုပ်ငန်းစဉ်များနှင့် လုပ်ဆောင်ချက်များ

ဆင်းရွှေလီသကြား စက်အမှတ် (၂) (အင်းဝိုင်း) ပြီးစီးပါက ဆက်လက်၍ နောက်ဆက်တွဲ စက်ရုံများအဖြစ် (၁) ကြံမြှပ်ချေးကို အခြေခံသော ဘိုင်အိုမြေသြဇာစက်ရုံ (၂)တင်လဲရည်ကို အခြေခံသော ဘိုင်အိုအီသနောစက်ရုံ (၃) ကြံဖတ်ကို အခြေခံသော စက္ကူပျော့ဖတ်စက်ရုံများကို စက်ရုံစုအဖြစ် ဆက်လက် အကောင်အထည်ဖော်ဆောင်ရွက်သွားရန် လျာထားပါသည်။ ယင်းစက်ရုံများ တည်ဆောက်ပေးခြင်းဖြင့် ဒေသ၏ လူမှုရေး စီးပွားရေးများ အရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်သည့်အပြင် အလုပ်အကိုင် အခွင့်အလမ်းများလည်း ပိုမိုရရှိလာမည်ဖြစ်ပါသည်။

ရင်းစက်ရုံအတွက် လိုအပ်သော လျှပ်စစ်ဓာတ်အားကို မြန်မာ့လျှပ်စစ်ဓါတ်အားမှ ရယူသုံးစွဲမည်ဖြစ် သော်လည်း ရေပေါများသောဒေသဖြစ်သည့်အလျောက် ဖောင်းအော်ချောင်းမှ ကိုယ်ပိုင် ရေအားလျှပ်စစ် ဓါတ်အားတပိုင်တနိုင်ထုတ်ယူသုံးစွဲသွားရန် စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ပိုလျှံသော လျှပ်စစ် ဓာတ်အားကိုလည်း ဒေသခံပြည်သူများ ကျေးရွာမီးလင်းရေးအတွက် ဖြန့်ဝေပေးသွားမည်ဖြစ်ပါသည်။

ကြံစိုက်တောင်သူများသို့လည်း အဆင်ပြေချောမွေ့စွာ စိုက်ပျိုးနိုင်စေရန်အတွက် ကုမ္ပဏီအနေဖြင့် စိုက်ပျိုးချိန်တွင် ကြံမျိုး ၊ ထယ်ရေး ၊ မြေသြဇာတို့ကို စာရင်းမှတ် အကြွေးစနစ်ဖြင့်လည်းကောင်း၊ ကြံပင် ပြုစုချိန်တွင် ကုန်ကျစရိတ်များကို ကုမ္ပဏီမှ ကြိုတင်ငွေထုတ်ပေး၍ ကြံရောင်းချချိန်တွင် အရစ်ကျခုနှိမ် စနစ်ဖြင့်လည်းကောင်း ကူညီထုတ်ပေးလျက်ရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

**NGWE YI PALE MINING CO., LTD.**

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## ကြံစိုက်ပျိုးမှုနှင့်ပတ်သက်၍ လက်ရှိတိုးချဲ့ စိုက်ပျိုးလျှက်ရှိသည့် လုပ်ငန်းစဉ်နှင့် ဆောင်ရွက်ထားရှိမှု

၁။ ငွေရည်ပုလဲကုမ္ပဏီသည် ရှမ်းပြည်နယ်မြောက်ပိုင်း ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့် ရှမ်းပြည်နယ်၏ ပြည်တွင်းထုတ်ကုန်စုစုပေါင်းတန်ဖိုး မြင့်မားရေးအတွက် ဒေသတွင်းကြံတောင်သူများကို အခြေခံ၍ ဆင်းရွှေလီသကြားစက်စီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်ပါသည်။

၂။ နောင်ချိုမြို့နယ်နှင့် ကျောက်မဲမြို့နယ်များအတွင်း စိုက်ပျိုးထားရှိပြီး ကြံဧက (၁၇၀၀၀) ကို စည်းရုံး၍ ကြံတစ်ဧက အထွက်တိုးရေးကို ဦးတည်ဆောင်ရွက်လျှက်ရှိပါသည်။ ဒေသတွင်း ကြံတောင်သူများသို့ ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေး၊ ပေါင်းသတ်ဆေး၊ မှိုသတ်ဆေး၊ မြေဖုံးပလပ်စတစ် စသည့်သွင်းအားစုပစ္စည်းများကို စိုက်ပျိုးချိန်မှ ကြံပေးသွင်းချိန်အထိ အတိုးမဲ့ ထုတ်ပေးခြင်း၊ ကြံဘိုးကြိုတင်ငွေများကို နှစ်စဉ်ဇူလိုင်လလယ်မှ နိုဝင်ဘာလလယ်အထိ အတိုးမဲ့ထုတ်ပေးခြင်း၊ ကြံစိုက်ထည်ရေးကောင်းများ ရရန်အတွက် ကုမ္ပဏီပိုင်ထွန်စက်များဖြင့် အကြွေးထွန်ယက်ပေးခြင်းတို့ကို နှစ်စဉ်ဆောင်ရွက်ပေးလျှက်ရှိပါသည်။

၃။ ဒေသတောင်သူများ သမရိုးကျစိုက်ပျိုးလျက်ရှိသည်မှ ကြံအထွက်တိုးရေးကို အလေးထား ဆောင်ရွက်နိုင်စေရန် ကုမ္ပဏီဝန်ထမ်းများမှ စဉ်ဆက်မပြတ် ကွင်းဆင်းကြီးကြပ်၍ နည်းပညာပြန့်ပွားရေးကို ဦးစားပေးဆောင်ရွက်ပေးပါသည်။

၄။ ဒေသတွင်းရှိပြီး ကြံမျိုးများအပြင် တရုတ်ကြံမျိုးကောင်းများ၊ ထိုင်းနှင့်ဖိလစ်ပိုင်ကြံမျိုးကောင်းများကို ကုမ္ပဏီပိုင် ကြံမျိုးပွားစိုက်ကွင်းများမှ ကြံတောင်သူများသို့ ကြံမျိုးတစ်တန်ပေး၊ စက်သွင်းကြံတစ်တန်ပြန်ယူစနစ်ဖြင့် နှစ်စဉ်ထုတ်ပေးကာ မျိုးလဲလှယ်ရေး လုပ်ငန်းများ ဆောင်ရွက်ပေးလျက်ရှိပါသည်။

၅။ ဒေသတွင်းလူမှုစီးပွားရေး တိုးတက်ဖွံ့ဖြိုးမှုအတွက် စာသင်ကျောင်းများဆောက်လုပ်ခြင်း၊ ကျန်းမာရေးဆေးပေးခန်းများဆောက်လုပ်ခြင်း၊ ကျေးလက်ဈေးဆောက်လုပ်ခြင်း၊ ကျေးရွာခန်းမဆောက်လုပ်ခြင်း၊ ဘုန်းတော်ကြီးကျောင်းများ ပြုပြင်ဆောက်လုပ်ခြင်း စသည့် ဖွံ့ဖြိုးရေးကိစ္စများတွင် တတပ်တအား နှစ်စဉ်ပါဝင် ဆောင်ရွက်လျက်ရှိပါသည်။

၆။ ဆင်းရွှေလီသကြားစက်ရုံအမှတ် (၁) စတင်လည်ပတ်ခဲ့သည့် ၂၀၀၇-၂၀၀၈ ခုနှစ်တွင် ကြံတောင်သူများစက်ရုံသို့ ကြံလာရောက်ပေးသွင်းစဉ်က ကြံတောင်သူ ၅၀ ရာနှုန်းခန့်သာ ကိုယ်ပိုင်ယာဉ် ယန္တယားများဖြင့် သယ်ယူပေးသွင်းနိုင်ခဲ့ရာမှ ယခုဆင်းရွှေလီသကြားစက် အမှတ်(၂) စက်ရုံစီမံကိန်းကို အဆိုပြုလျှောက်ထားသည့် ၂၀၁၂-၂၀၁၃ ဘဏ္ဍာရေးနှစ်တွင် တောင်သူ ၉၀ ရာနှုန်းခန့် ကိုယ်ပိုင်ယာဉ်ယန္တယားဖြင့် ကြံပေးသွင်းနိုင်လာပြီဖြစ်ပါသည်။

# NGWE YI PALÈ MINING CO., LTD.

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

အချို့တောင်သူများသည် ဒေသထွက်ယာဉ်ငယ်များ ပိုင်ဆိုင်ရာမှ ပိုမိုစွမ်းအားကောင်းမွန်သည့် ခြောက်ဘီးကားများ ထပ်မံပိုင်ဆိုင်လာသည်အထိ လူမှုစီးပွားရေးဘဝ တိုးတက်လာခဲ့ပါသည်။ တောင်သူများ စီးပွားတိုးတက်လာခြင်းကြောင့် ကိုယ်ပိုင်ထွန်စက်များ ဝယ်ယူလိုသူများကို ကုမ္ပဏီမှ အရစ်ကျ အကြံပေးသွင်းချိန် ခုနှိမ်သည့်စနစ်ဖြင့် ရောင်းချပေးလျှက်ရှိရာ တရုတ်ပြည်မှ မြင်းကောင်ရေ (၇၀)မှ (၈၀)ရှိ ထွန်စက် (၁၆)စီးကို တောင်သူများ လက်ဝယ်သို့ အရောက်ရောင်းချပေးခဲ့ပါသည်။

၇။ ငွေရည်ပုလဲကုမ္ပဏီအနေဖြင့် ဒေသဖွံ့ဖြိုးတိုးတက်ရေးအတွက် နှစ်စဉ်ပါဝင်ဆောင်ရွက်ပေးခဲ့သည့် ကူညီပံ့ပိုးမှုလုပ်ငန်းများ အရပ်ရပ်တို့၏ ပမာဏမှာ ယခုအချိန်အထိ ကျပ်သိန်းပေါင်း (၇၆၀၀)ခန့် ဖြည့်ဆည်းဆောင်ရွက်ခဲ့ပြီးဖြစ်ပါသည်။

၈။ ဤသို့ဖြင့် တောင်သူများ လူမှုစီးပွားရေးဘဝနှင့် ကုမ္ပဏီအကျိုးစီးပွား ပြိုင်တူဖွံ့ဖြိုးတိုးတက်ရန် ရည်ရွယ်၍ ဘက်စုံ ဆောင်ရွက်ပေးခြင်းကြောင့် ကြံတောင်သူများနှင့် ဆင်းရွှေလီသကြားစက်ရုံတို့သည် အကျိုးတူစီးပွားဖက်များအဖြစ် သွေးစည်းခိုင်မာလျှက်ရှိပါသည်။

၉။ ဆင်းရွှေလီသကြားစက်အမှတ် (၂) အကောင်အထည်ဖော် ဆောင်ရွက်သည်နှင့် ကြံစိုက်ရန် ရေ ၊ မြေ အခြေအနေပေးသည့်နေရာတွင် တိုးချဲ့စိုက်ပျိုးခြင်းနှင့်အတူ ကြံတစ်ဧကအထွက်နှုန်း ပိုမိုတိုးတက်လာရန် နည်းလမ်းများကို မြန်မာ့ကြံလုပ်ငန်းမှ ကြံပညာရှင်များနှင့်အတူ ပူးပေါင်း၍ ကြံတောင်သူများသို့ မျိုးကောင်းမျိုးသန့်များ ဖလှယ်ခြင်း၊ တိုးတက်ကောင်းမွန်သည့် စိုက်ပျိုးနည်းစနစ်ကောင်းများ ဖြန့်ဝေခြင်းတို့ကို နှစ်စဉ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအစီရင်ခံအပ်ပါသည်။

လေးစားစွာဖြင့်

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# NGWE YI PALÈ MINING CO., LTD.

NO.(62) , 15th STREET, BET (87-88) STREET, MANDALAY . TEL : 02-31941,02-34015
ROOM (402) , NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## လက်ရှိဆင်းရွှေလီ သကြားစက်အမှတ်(၁) ဆမွဆယ်၏ တစ်နေ့သကြားထွက်ရှိနှုန်း

လက်ရှိဆင်းရွှေလီသကြားစက်အမှတ် (၁) ဆမွဆယ်အနေဖြင့် ယနေ့ထိကြံကြိတ်ဝါးရက် (၅၉)ရက်တွင် ကြံတန် (၉၄၅၀၀) တန်ကြိတ်ဝါးခဲ့ပြီး သကြားအိတ် (၁၉၂၅၇၆) အိတ် ထွက်ရှိပြီးဖြစ်ပါသဖြင့် သကြားအထွက်နှုန်း (၁၀%) ခန့် ရရှိခဲ့ပါသည်။ ထို့ကြောင့် တစ်ရက်ပျမ်းမျှကြိတ်ဝါးကြံတန်မှာ ၁၆၀၀ တန်ခန့်ဖြစ်ပြီး တစ်ရက်ပျမ်းမျှသကြားအထွက်နှုန်း (၁၀%) ခန့်ဖြင့် သကြားတန် (၁၅၉. ၈၀)တန်၊ (၃၂၆၀) အိတ် ထွက်ရှိလျှက်ရှိပါသည်။

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# NGWE YI PALE MINING CO., LTD.

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## ပြည်တွင်းဖြန့်ဖြူးအရေအတွက်နှင့် ပြည်ပပို့ကုန်နှုန်း

ဆင်းရွှေလီသကြားစက်အမှတ် (၁) ဆမွဆယ်မှ ကြံတန် (၉၄၅၀၀) တန် ကြိတ်ဝါးပြီး သကြားအိတ်ပေါင်း (၁၉၂၅၇) အိတ်ထွက်ရှိခဲ့ပါသည်။ လက်ရှိဖြန့်ဖြူးပြီးသကြား (၁၉၂၅၇၆) အိတ်ဖြစ်ပါသည်။ ဈေးကွက်အလိုက် ရောင်းချရမှုမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | | | | |
|---|---|---|---|---|---|
| (က) | မန္တလေးဂိုဒေါင် | ၈၄၃၆၇ | အိတ် | = | ၄၃.၈၁% |
| (ခ) | လားရှိုး | ၈၃၀၀ | အိတ် | = | ၄၃.၁၄% |
| (ဂ) | မူဆယ်ကုန်သည်များ | ၂၄၉၅၇ | အိတ် | = | ၁၂.၉၆% |
| (ဃ) | ပြင်ပလက်လီရောင်း | ၁၇၅ | အိတ် | = | ၀.၀၇% ဖြစ်ပါသည်။ |

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# NGWE YI PALÈ MINING CO., LTD.

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးခြင်း ဂတိဝန်ခံချက်

ငွေရည်ပုလဲသတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက် (Ngwe Yi Pale Mining Co.,Ltd) အနေဖြင့် မိမိစက်ရုံတွင် ခန့်ထားမည့် ဝန်ထမ်းများကို အဆိုပြုလွှာတွင်ဖော်ပြထား သည့်အတိုင်း ခန့်ထား၍ သတ်မှတ်ထားသည့် လစာနှုန်းထားအား လစာပေးခြင်းနှင့် ဝန်ထမ်းတစ်ဦးခြင်းအပေါ် ရရှိသည့် လစာပေါ်မူတည်၍ တစ်လလျှင် ကျပ် တစ်သိန်းလေးသောင်း နှုန်းအထက်ရရှိ သော ဝန်ထမ်းများ၏ ဝင်ငွေခွန် ကို ပြည်တွင်းအခွန်ဦးစီးဌာနမှ သတ်မှတ်ထားသည့်အတိုင်း ဝင်ငွေခွန် ပေးဆောင်ပါမည်ဟု ဝန်ခံဂတိပြုပါသည်။

လေးစားစွာဖြင့်

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# NGWE YI PALÈ MINING CO., LTD.

NO.(62), 15th STREET, BET (87-88) STREET, MANDALAY. TEL : 02-31941,02-34015
ROOM (402), NO-263, YAZADARIT HOUSING, BOTAHTAUNG, YANGON.TEL : 01-201740

## လျှပ်စစ်ဓါတ်အား လိုအပ်ချက်နှင့် ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း

ငွေရည်ပုလဲသတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက် (Ngwe Yi Pale Mining Co.,Ltd) သည် ရှမ်းပြည်နယ်ဒေသကြီး၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ကုန်းကြီးကျေးရွာအုပ်စု၊ ကွင်းအမည် (အင်းဝိုင်းကွင်းပြင်)၊ မြေစာရင်း လန-၃၉ အရ မြေဧရိယာ(၁၃၆.၀၀)ဧက တွင်တစ်နေ့တန်(၄၀၀၀)ကျ သကြားစက်ရုံအမှတ်(၂)ကို တည်ဆောက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် ရရှိရန် အဆိုပြုတင်ပြလျှောက်ထားလျှက်ရှိပါသည်။ အဆိုပါလုပ်ငန်းအတွက်လိုအပ်သော လျှပ်စစ်ဓါတ်အား အသုံးပြုရန် မဟာဓါတ်အားလိုင်းကို ပြည်ထောင်စုလျှပ်စစ်ဝန်ကြီးဌာနသို့တင်ပြ လျှောက်ထားမည်ဖြစ်ပြီး၊ မဟာဓါတ်အားလိုင်း မရရှိမှီ အချိန်ကာလအတွင်း KVA -500 (၂) လုံးနှင့် KVA -300 (၂)လုံးဖြင့် အသုံးပြုမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Thein Myint
Managing Director
Ngwe Yi Palè Mining Co., Ltd.

# ငွေရည်ပုလဲသတ္တုတူးဖေါ်ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်၏
# ဆင်းရွှေလီ သကြားစက် အမှတ်(၂)(အင်းဝိုင်း) စီမံကိန်း၊
# နောင်ချိုမြို့နယ်
# လူမှုပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုလျော့နည်းစေရေးအတွက်
# အကျိုးသက်ရောက်မှုများအား လေ့လာဆန်းစစ်ချက်
## (Social Impact Assessment SIA)

ငွေရည်ပုလဲမိုင်းနင်းကုမ္ပဏီလီမိတက်၏ ရှမ်းပြည်နယ်မြောက်ပိုင်းကျောက်မဲခရိုင် နောင်ချိုမြို့နယ် ကုန်းကြီးရွာ မအုပ်စု အင်းဝိုင်းကျေးရွာနယ်မြေရှိ စက်ရုံစီမံကိန်းမြေနေရာသည်အစိုးရ ရေနံမြေများ၊ သာသနာ့မြေများ၊ လယ်မြေများ ရွာမြေများ၊ တောင်သူလုပ်ကွက်စိုက်ပျိုးမြေများ၊ အခြားပုဂ္ဂလိကလျှောက်ထားမြေဧရိယာများနှင့်ကင်းလွတ်ကြောင်း၊ သက်ဆိုင်ရာအထွေထွေအုပ်ချုပ်ရေးမှူး၊ မြို့နယ်သစ်တောဦးစီးဌာန၊ မြို့နယ်မြေစာရင်းဦးစီးဌာနတို့၏ စီစစ်တင်ပြ ချက်အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်းထောက်ခံချက်ရရှိပြီးဖြစ်ပါသည်။

စက်ရုံစီမံကိန်းနယ်မြေဒေသအနီး လယ်ယာလုပ်ကိုင်နေကြသော ဒေသခံပြည်သူများနှင့်မီတင်းနေထိုင်ကြသူများ အားကြံစိုက်ပျိုးနည်းပညာများဖြန့်ဖြူး၍၎င်း သွင်းအားစုများပံ့ပိုး၍၎င်း၊ ကြံဧကများတိုးချဲ့ရာတွင်လိုအပ်မည့်စက် ယန္တယားများကူညီခြင်းခြင်း၎င်း၊ တောင်သူမိုခိုမိသားစုများအားစက်ရုံလုပ်ငန်းခွင်များတွင် လုပ်ကိုင်စေခြင်းဖြင့်၎င်း၊ အလုပ်အကိုင်အခွင့်အလမ်းများရရှိ၍ ဝင်ငွေတိုးပွားစေရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ စက်ရုံစီမံကိန်းဆောင်ရွက် မည့်ဒေသသည် နောင်ချိုနှင့်၎င်း၊ ပြင်ဦးလွင်နှင့်၎င်းအလှမ်းဝေးသည့်နေရာဖြစ်ပါသည်။ ဒေသတွင်းရှိရွာများသည် လမ်းပန်းဆက်သွယ်ရေးခက်ခဲသဖြင့်၎င်း၊ ကြံနှင့်ပြောင်းကိုသာအဓိကထားစိုက်ပျိုးသော်လည်း မြို့များနှင့်ဝေးကွာသဖြင့် ဖွံ့ဖြိုးမှုနည်းပါးလျှက်ရှိပါသည်။ ဖွံ့ဖြိုးမှုနည်းပါးသဖြင့် လူမှုရေး၊ ကျန်းမာရေး၊ ပညာရေးများနိမ့်ကျလက်ရှိသည်ကို တွေ့ရှိရပါသည်။

စက်ရုံအားဤဒေသတွင်းရွေးချယ်တည်ဆောက်သဖြင့် လမ်းပန်းဆက်သွယ်ရေးကောင်းမွန်လာခြင်း၊ ဒေသထွက် ကုန်များလွယ်ကူလျှင်မြန်စွာ ပို့ဆောင်နိုင်ခြင်း၊ ပညာရေး၊ ကျန်းမာရေးကိစ္စများတိုးတက်လာခြင်းတို့အပြင် လူမှုပတ် ဝန်းကျင်ဖွံ့ဖြိုးတိုးတက်လာမှုများမလွဲမသွေရှိလာမည်ဖြစ်ပါသည်။ ဒေသခံများသည်လမ်းပန်းဆက်သွယ်ရေးခက်ခဲသဖြင့် လူမှုရေး၊ ကျန်းမာရေး၊ ပညာရေးများတွင်များစွာနိမ့်ပါးလျှက်ရှိကြပါသည်။ ဤကဲ့သို့အဖက်ဖက်မှနိမ့်ပါးလျှက် နေထိုင်ကြရသောဒေသခံများအား လမ်းပန်းဆက်သွယ်မှုအား ကူညီဆောင်ရွက်ပေးခြင်း၊ ကျန်းမာရေးဆိုင်ရာများ တတ်နိုင်သမျှထောက်ပံ့ခြင်း၊ ပညာရေးဆိုင်ရာအထောက်အပံ့များကူညီဆောင်ရွက်ပေးခြင်းတို့ကို ဆောင်ရွက်ပေးလျှက် ရှိပါသည်။ ဒေသခံများ၏ရင်သွေးငယ်များ ပညာအဆင့်အတန်းမြင့်မားလာစေရန် အခွင့်အရေးများရရှိလာပြီး အလုပ်အကိုင်အခွင့်အလမ်းများ၊ စီးပွားရေးအခွင့်အလမ်းများကို ပွင့်လင်းအောင်ဆောင်ရွက်ပေးသွားမည် ဖြစ်ပါသည်။

ဤကုမ္ပဏီသည်ဒေသခံပြည်သူများ၏ လူမှုဘဝ၊ ပတ်ဝန်းကျင်များတိုးတက်လာရေးကို အတတ်နိုင်ဆုံး ဆောင်ရွက်ပေးလျှက်ရှိပါသည်။ ကုမ္ပဏီမှလက်ရှိစက်ရုံများတည်ရှိရာနေရာများတွင် စာသင်ကျောင်း(၅)ကျောင်း စာသင်ခုံ နှင့်ပညာရေးအထောက်အပံ့ပစ္စည်းများ၊ သောက်သုံးရေးရရှိရေးလုပ်ငန်းများ၊ ရေလှူဆည်၊ ရေကန်များ၊

ဘုန်းတော်ကြီးကျောင်းများ၊ လမ်းတံတားများ၊ ကျန်းမာရေးဆေးပေးခန်းများ၊ အစရှိသည့်ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများအတွက် မြန်မာကျပ်ငွေ(၁၂၆၅၀)သိန်းခန့် သုံးစွဲခဲ့ပြီးဖြစ်ပါသည်။ ဆက်လက်၍ ဆင်းရွှေလီသကြားစက်အမှတ်(၂)အနီးဒေသများ ဖွံ့ဖြိုးရေးအတွက် လမ်းဖေါက်ပေးခြင်း၊ မိုးခင်းပေးခြင်း၊ ပွဲနိတံတားများဆပ်ဆင်ပေးခြင်း၊ ဘန့်ဘွေးရွာတွင်းသားဖွား ဆောင်ဆောက်လုပ်ပေးခြင်း၊ အင်းဝိုင်းဘုန်းတော်ကြီးကျောင်းဆောက်လုပ်ရေးတွင် ငွေနှင့်ဘိလပ်မြေများလှူဒါန်း ပေးခြင်း၊ ရွာခြင်းဆက်လမ်းများကူညီဖေါက်လုပ်ပေးခြင်းစသော လုပ်ငန်းများကို ပါဝင်ဆောင်ရွက်လျှက်ရှိပါသည်။ ဆက်လက်၍လည်းဒေသခံတိုင်းရင်းသားများ၏ လူနေမှုဘဝတိုးတက်ရန် ကုမ္ပဏီမှ အတတ်နိုင်ဆုံးကူညီပံ့ပိုးသွားမည်ဖြစ်ပါသည်။

ငွေရည်ပုလဲသတ္တုတူးဖေါ်ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်၏
ဆင်းရွှေလီ သကြားစက် အမှတ်(၂)(အင်းဝိုင်း) စီမံကိန်း၊
နောင်ချိုမြို့နယ်

<u>ကျန်းမာရေးယိုယွင်းမှုလျော့နည်းစေရေးအတွက် အကျိုးသက်ရောက်မှုများအား</u>

<u>လေ့လာဆန်းစစ်ချက်</u>

**(Health Impact Assessment H.I.A))**

ငွေရည်ပုလဲသတ္တုတူးဖေါ်ရေးကုမ္ပဏီလီမိတက်၏ ရှမ်းပြည်နယ်မြောက်ပိုင်း ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ကုန်းကြီးရွာအုပ်စု၊ အင်းဝိုင်းကျေးရွာနယ်မြေ ခန့်မှန်းမြေပုံညွှန်း 93B-12 ဝန်းကျင်မြေဧရိယာ(၁၃၆.၄၆)ဧကတွင် ဆင်းရွှေလီသကြားစက်ရုံအမှတ်(၂)အားတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ ထိုသို့ဆောင်ရွက်ရာတွင် ဒေသခံပြည်သူလူထု၏ ကျန်းမာရေးထိခိုက်ယိုယွင်းမှု (H.I.A) ကိုအနည်းဆုံးနှင့်အသက်သာဆုံးဖြစ်အောင် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

သကြားစက်ရုံအမှတ်(၂)သည်အဓိကကုန်ကြမ်းအဖြစ် ကြံပင်ကိုသာအသုံးပြုမည်ဖြစ်ပြီး သွယ်ဝိုက်ကုန်ကြမ်းအဖြစ်ထုံး၊ ကန့်အနည်းငယ်ကိုသာအသုံးပြုမည်ဖြစ်ပါသည်။ ရေအသုံးပြုမှုရှိသော်လည်း ယခုစက်ရုံ၏နည်းစဉ်သည် ရေအသုံးပြုမှုနည်းမည်ဖြစ်ပါသည်။ Condensate ခေါ်ပေါင်းခံရေကို အဓိကပြန်လည်အသုံးချမည်ဖြစ်ပါသည်။ ရေဆိုးစွန့်ပစ်ရာတွင်လည်း Waste Water Treatment Plant တပ်ဆင်ထားမှုနှင့်ပတ်သက်၍ စက်ရုံသုံးရေကို ခေတ်မီအအေးခံစနစ်၊ သန့်စင်စနစ်များအသုံးပြု၍ ရေသံသရာလည်နည်း (Water Circulation) ဖြင့် စီမံသုံးစွဲမည်ဖြစ်ပါသည်။

ဒေသခံပြည်သူများ၏ ကျန်းမာရေးမထိခိုက်စေရန်အတွက်ငှင်း၊ လေထုမညစ်ညမ်းစေရေးအတွက်ငှင်း၊ ဘွိုင်လာမှထွက်ရှိမည့်ချော်ပြာများကို မီးတိုက်ခမ်းမှတိုက်ရိုက်ဆွဲထုတ်၍ဖယ်ရှားခြင်း၊ မီးခိုးတွင်ပါဝင်သွားနိုင်သည့်အမှုံအမွှားနှင့် $Co_2$, Co, No, $So_2$) ဓာတ်ငွေ့များကို နော်ဖယ်ရေဖြန်းစနစ်သုံးသည့် (Dust Collector) စနစ်ဖြင့်ဖယ်ရှားခြင်း၊ ဓါတ်ပြိုကွဲစေခြင်းဖြင့်ငှင်း မလိုလားအပ်သောဓါတ်ငွေ့အမှုံအမွှားထွက်ရှိမှုလျော့နည်းစေသည့် Complete Combustion) ဖြစ်စေရန်နှင့် $Co_2$ Amaliger and Control System များတတ်ဆင်ခြင်းဖြင့်ငှင်း၊ သန့်စင်၍ထွက်ရှိလာသောမီးခိုးဖြူများအား ခေါင်းတိုင်အမြင့်စံသတ်မှတ်ချက်အတိုင်းတည်ဆောက်ခြင်းဖြင့်ငှင်း၊ မီးခိုးတွင်ပါဝင်သော အညစ်အကြေးအမှုံအမွှားများပါဝင်မှုကို အပြည်ပြည်ဆိုင်ရာသတ်မှတ်စံချိန်စံညွှန်းနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ စက်ရုံပတ်ဝန်းကျင်ရှိဒေသခံရွာများသည် စက်ရုံနှင့်(၁)မိုင်မှ(၇)မိုင်ခန့်အကွာအဝေးတည်ရှိသဖြင့် ဒေသခံများကျန်းမာရေးဆိုင်ရာလုပ်ငန်းကိစ္စများတွင် စက်ရုံတာဝန်ရှိသူများနှင့် ကုမ္ပဏီမှအားတက်သရောပါဝင်ဆောင်ရွက်နိုင်ခွင့်ရရှိကြမည်ဖြစ်ပါသည်။

ဤကုမ္ပဏီစက်ရုံအနေဖြင့် ဝန်ထမ်းများ၏ကျန်းမာရေးစောင့်ရှောက်မှုအဖြစ် စက်ရုံတွင်ဆေးခန်းများထားရှိပြီး ဝန်ထမ်းများအား အခမဲ့ဆေးကုသခွင့်ပြုထားပါသည်။ ဝန်ထမ်းများနာမကျန်းဖြစ်၍ ဆေးရုံတက်ရောက်ကုသမှုခံယူပါရက ဆေးရုံတက်စားရိတ်နှင့်ဆေးဘိုးကုန်ကျငွေ၏တစ်ဝက်ကို စက်ရုံမှကျခံထုတ်ပေးလျှက်ရှိပါသည်။ ၎င်းအပြင်ဝန်ထမ်းမိသားစုသာသမီးငယ်များအား ကျန်းမာရေးဌာနနှင့်ဆက်သွယ်၍ ကာကွယ်ဆေးများထိုးပေးခြင်း၊

အမျိုးသမီးဝန်ထမ်းများ မီးဖွားခွင့်တောင်ခံလာပါက မီးဖွားခွင့်အပြင်မီးဖွားစရိတ်(၂)သိန်းကျပ်ကိုလည်း ထောက်ပံ့ပေးလျှက်ရှိပါသည်။ စက်ရုံနေ့ဆိုင်း/ညဆိုင်းဆင်းဝန်ထမ်းများ အဟာရဖြည့်တင်းရေးအတွက် ကြက်ဥ၊ ကော်ဖီမစ်ခေါက်ဆွဲခြောက်ထုတ်များ အအေးဘူးများကိုအလှည့်ကျစနစ်ဖြင့်နေ့စဉ် အဟာရကျွေးမွေးရေးအစီအစဉ်ရေးဆွဲ၍ ကျွေးမွေးလျှက်ရှိပါသည်။ ၎င်းအပြင်အပူရှိန်ရှိသော စက်ရုံနေရာများတွင်ဝန်ထမ်းအား အပူခံရင်ခံပြားများ၊ Helmat များတပ်ဆင်ပေးခြင်းဖြင့် ကျန်းမာရေးထိခိုက်မှုအန္တရာယ်မှကာကွယ်ပေးမည်ဖြစ်သည်။

စက်ရုံအနီးရှိဒေသခံရွာများမှ ပြည်သူများ၏ကျန်းမာရေးအတွက် စက်ရုံဆေးခန်းတွင် ကြည့်ရှုစောင့်ရှောက်ခမယူဘဲ ဆေးဘိုးကျခံစနစ်ဖြင့်ကုသပေးသွားမည်ဖြစ်ပါသည်။ ၎င်းအပြင် ဒေသခံရွာကြီးများတွင်ဆေးခန်းများသားဖွားခန်းများဆောက်လုပ်လှူဒါန်းပေးလျှက်ရှိပါသည်။

## ငွေရည်ပုလဲသတ္တုတူးဖော်ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်၏
## ဆင်းရွှေလီ သကြားစက် အမှတ်(၂)(အင်းဝိုင်း) စီမံကိန်း၊
## နောင်ချိုမြို့နယ်
## သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု လျော့နည်းစေရေးအတွက်
## အကျိုးသက်ရောက်မှုများအား လေ့လာဆန်းစစ်ချက်
## (Enviromental Impact Assessment EIA)

ဆင်းရွှေလီသကြားစက်ရုံ(၂)အင်းဝိုင်းစီမံကိန်းတည်ရှိရာ ဒေသသည်ပေ(၄၀၀၀)ကျော်မြင့်မားသည့် တောင်စဉ်တောင်တန်းများ ဆင်ခြေလျှောတောင်စောင်းများဝန်းရံနေပြီး ပျမ်းမျှပေ(၂၀၀၀)ခန့်ရှိသော ဆင်ခြေလျှောလွင်ပြင်များပါဝင်ပါသည်။ နောင်ချိုဒေသဧရိယာ၏(၈)သိန်းခန့်တွင် လယ်မြေများ၊ တောင်ရိုင်းမြေများ၊ မြေရိုင်းများ ဧကတစ်သိန်းခန့်သာရှိသဖြင့် ကျန်ဧက(၇)သိန်းခန့်မှာ သဘာဝအတိုင်းဖြစ်တည်နေမည်ဖြစ်သည်။ ဒေသသည် မူလလက်ရှိအနေအထားအရမြင်းဖြူတောင်ကျောတွင် သစ်ပင်သစ်တောများဖုံးလွှမ်းလျက်ရှိပါသည်။ စက်ရုံတည်ဆောက်သဖြင့် သဘာဝပတ်ဝန်းကျင်အနေအထားအား မပျက်မစီးအောင်စီမံချက်ချ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ စက်ရုံ၏ကုန်ထုတ် လုပ်မှုအပိုင်းတွင် ကာဘွန်ဒိုင်အောက်ဆိုဒ်ဓါတ်ငွေ့ထုတ်လုပ်မှုနည်းသောနည်းကို အသုံးပြုထားပြီး ထွက်ရှိလာသော $Co_2$ ဓါတ်ငွေ့ကိုလည်းပြန်လည်သန့်စင်ခြင်းစနစ် $Co_2$ Amaliger and contreol System ကိုအသုံးပြုသွားမည်ဖြစ်ပါသည်။

သကြားစက်ရုံလည်ပတ်ရန်တစ်ရက်လျှင် ရေဂါလံ(၁)သန်းခန့်၊ (၁)နာရီလျှင်(၂၀၀)တန်/နာရီနှုန်းအသုံးပြုရပါသည်။ ထိုမျှလောက်သုံးစွဲရသော်လည်း စက်ရုံမှအသုံးပြုပြီးသောရေကို Recycle (Spray Pond) အအေးခံ၍ ပြန်လည်အသုံးပြုရပါသည်။ အဆိုပါရေများမှာ

(က) ကြံရည်ကြိုအိုး၊ သကြားချက်ဒယ်မှ (Vaccum Making တွင်အသုံးပြုသော Condenser နှင့် Injector Water များ။

(ခ) Turbine, Bearing များ၊ Air Compressor, Sulphur burner, တို့မှ Cooling Water များ

(ဂ) Massicuilte Cyrstallizer အအေးခံအိုးမှ Cooling water Volume) ကိုလျော့နည်းစေမည်ဖြစ်ပါသည်။

စက်ရုံတွင်းရှိ Process Water ဟုခေါ်ဆိုသော ဘွိုင်လာမှထုတ်ပေးလိုက်သောရေနွေးငွေ့ (Super Heate Steam) အား ဓါတ်အားထုတ်စက်( Steam turbine Generator) ကြံရည်အပူပေးကရိယာ (Juice Heater) ကြံရည်ကြိုကရိယာ(Evaporator) သကြားချက်ဒယ် (Pan) တို့တွင် အသုံးပြုရရှိသော Pure Condensate ကို Boiled feed water တွင်ပြန်အသုံးပြုခြင်း၊ Impure Condensate ကို သကြားချက်လုပ်ခြင်း Process တွင်ရေနွေးလိုအပ်သောနေရာများတွင်ပြန်လည်အသုံးပြုခြင်းဖြင့် စက်ရုံသုံးရေ(ရေစိမ်း)ကို ပိုမိုသုံးစွဲရန်မလိုသဖြင့် စက်ရုံ၏စွန့်ပစ်ရေ(waste water volume) ကိုလျော့နည်းစေပါသည်။

စက်ရုံ၏စွန့်ပစ်ရေမှာ ကြံတစ်တန်ကြိတ်ဝါးလျှင် $0.16m^3$ မှ $0.76m^3$ ထိရောက်ရှိပါသည်။ အဆိုပါစွန့်

ပစ်ရေတွင် ပတ်ဝန်းကျင်အားထိခိုက်စေနိုင်သော B.O.D (Bio Chemical Oxygen Demond) 1000 mg/lit ခန့်ပါဝင်ကြောင်းတွေ့ရှိရပါသည်။ စက်ရုံ၏စွန့်ပစ်ရေတွင် B.O.D 100mg/lit ထက် လျော့နည်းအောင်ပြုလုပ်ပြီးမှသာ စွန့်ပစ်ရေတွင် B.O.D ကိုလျော့ချရန် Anaerobic biological process (Oxidition Ponds) များဖြင့်လျော့ချ၍ ဆောင်ရွက်ရမည်ဖြစ်ပါသည်။ အဆိုပါနည်းမှ Waste Water တွင်ပါလာသော Organic compond များကိုအနယ်အဖြစ်ကျစေပြီး စွန့်ပစ်ရေ၏ B.O.D 100 အောက်ကျစေပြီး ရရှိသောစွန့်ပစ်ရေကို ကြံစိုက်ခင်းများတွင် ရေသွင်းစိုက်ပျိုးရာတွင် ပြန်လည်အသုံးပြုနိုင်ပါသည်။

သကြားစက်လောင်စာများ၏ဘွိုင်လာမှ ကြံဖတ်ကိုအသုံးပြုပြီး ဘွိုင်လာခေါင်းတိုင်မှ စွန့်ပစ်လေတွင်လည်း Air Pollution ဖြစ်စေသော Un-burn bagasse များ၊ ကာဘွန်အမှုန့်များ၊ အောက်ဆီဂျင်၊ နိုင်တြိုဂျင်၊ ကာဘွန်မိုနော့ဆိုဒ်၊ ဆာလဖာများပါဝင်နိုင်၍ ဘွိုင်လာ၏ Combustion Chamber, Design နှင့် Operation များ အသေအချာစီစစ်ခြင်းဖြင့် Unpburn bagasse များ ကာဘွန်မိုနော့ဆိုဒ်များကို လျော့နည်းစေနိုင်ပါသည်။ Fly Ash များနှင့် Air Pollution ကိုဖြစ်စေသော အမှုန်အမွှာများကို wet collectors (မီးခိုးခေါင်းတိုင်မှ မထွက်မီရေဖြန်းချနည်းများ) multicyclones များဖြင့်တပ်ဆင်ပြီး Air pollution မဖြစ်အောင်ထိန်းချုပ်သွားမည်ဖြစ်ပါသည်။

ဂေဟစနစ်မပျက် စီးစေရန် စက်ရုံဝန်းအတွင်း ပန်းအလှများ အရိပ်ရသစ်ပင်များ အထူးသဖြင့် ကျွန်း၊ ရေမနေ၊ သရက်၊ ပိန္နဲအပင် (၁၀၀၀)ကျော်နှင့် စက်ရုံအဝင်လမ်းမကြီး(၂)ခု၏ ဝဲ/ယာတွင် ကျွန်း၊ ရေမနေ၊ ပိတောက်၊ ယူကလစ်အပင် (၅၀၀၀)ကျော်အား အကွက်ချစိုက်ပျိုးသွားရန် စီစဉ်ဆောင်ရွက်လျှက်ရှိပါသည်။ (ဓါတ်ပုံပူးတွဲ) သန့်ရှင်းသောပတ်ဝန်း ကျင်များဖြစ်အောင် ဥယျာဉ်၊ စက်ရုံတခုသဖွယ်တည်ဆောက်ကာ သဘာဝပတ်ဝန်းကျင်ကောင်းတစ်ခု တည်ဆောက်သွား မည်ဖြစ်ပါသည်။

စက်ရုံ၏အရှေ့ဘက်ခြမ်း မြင်းဖြူတောင်တန်း ဖောင်းအော်ချောင်း ရေတံခွန်ချောင်းစသည် သဘာဝရှုခင်းအလှအပများဝန်းရံလျက်ရှိသဖြင့် ထိုသဘာဝအလှအပများမပျက်စီးစေအောင် ထိန်းသိမ်းစောင့်ရှောက်ကာ ဒေသအကျိုးပြုမည့်သဘာဝ အပန်းအဖြေစခန်းတစ်ခုအဖြစ်ရှိစေမည်ဖြစ်ပါသည်။

